ကုမ္ပဏီအမည် - De Heus Myanmar Ltd.

- လုပ်ငန်း - တိရိစ္ဆာန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၉-၆-၂၀၁၅ | | |
| ၂ | PAT တင်ပြခြင်း | ၂၉-၆-၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၃၀-၆-၂၀၁၅ | | |
| ၄ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စက်မှုဝန်ကြီးဌာန | ၁-၇-၂၀၁၅ | ၁၅-၇-၂၀၁၅ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁-၇-၂၀၁၅ | ၂၇-၇-၂၀၁၅<br>၇-၁၀-၂၀၁၅ | |
| | (ဂ) မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန | ၁-၇-၂၀၁၅ | ၆-၇-၂၀၁၅ | |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | ၁-၇-၂၀၁၅ | ၃-၈-၂၀၁၅ | |
| ၅ | ကုမ္ပဏီ မှပြင်ဆင်ချက် | ၂၄-၉-၂၀၁၅ | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( /၂၀၁၅)ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၁၁၅ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | De Heus Myanmar Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | တိရိစ္ဆာန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ရန်ကုန်မြို့၊ မှော်ဘီမြို့နယ်၊ မြောင်း တကာ သံမဏိစက်မှုဇုန်၊ မြေကွက် အမှတ်-၃၀၆၊၃၀၇၊၃၀၈ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၇.၅၇၅ သန်း |
| ရောင်းချမည့်စနစ် | - | ပြည်တွင်းရောင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၁ နှစ် |
| IRR | - | ၃၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၃၃ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၈၆၀ သန်း | ကျပ် ၄၁၇၀ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၄၅၆၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက် ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၅၃) ဦး |
| ၇ | CSR (၂ %) | | ကျပ် ၃၅၀ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၀၃ ဦး<br>ပြည်ပ ၁ ဦး<br>ပြည်တွင်းလုပ်သား ( ၁၀၄ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၂၉၉.၅၅ သန်း | ကျပ် ၉၀၈၁.၁၆ သန်း |
| | Cost & Benefit | ၁ : ၃ | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် De Heus Myanmar Ltd.မှ တိရစ္ဆာန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ လာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - De Heus Myanmar Ltd. |
| | ကမကထပြုသူ | - Jacobus Johannes de Heus( The Netherlands) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - တိရစ္ဆာန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ရန်ကုန်မြို့၊ မှော်ဘီ မြို့နယ်၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မြေကွက် အမှတ်-၃၀၆၊၃၀၇ ၊ ၃၀၈ |
| ၃။ | မြေအကျယ်အဝန်း | - ဧရိယာ ၅.၅၁ဧက၊ (၂၂,၂၉၈.၂၀ စတုရန်းမီတာ) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၇.၅၇၅ သန်း |
| | ငွေသား | US$ ၀.၅၀၀ သန်း |
| | စက်ပစ္စည်း၊ကိရိယာများ | US$ ၂.၆၆၀ သန်း } ချေးငွေ |
| | အဆောက်အဦများ | US$ ၁.၃၄၀ သန်း } |
| | အင်ဂျင်နီယာဌားရမ်းခ | US$ ၀.၆၀၀ သန်း |
| | စက်ကိရိယာတပ်ဆင်ခ | US$ ၀.၈၅၀ သန်း |
| | အဆောက်အဦအတွင်းပိုင်း အခင်းအကျင်းပြင်ဆင်ခ | US$ ၀.၄၂၅ သန်း |
| | အခြား | US$ ၁.၁၀၀ သန်း |
| ၆။ | ဝန်ထမ်းအင်အား | **- ၁၀၄ ဦး** |
| | ပြည်တွင်း | - ၁၀၃ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ **US$** ၁၃၀ အမြင့်ဆုံးလစာ US$ ၂၁၆၇) |
| | ပြည်ပ | - ၁ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏ US$ ၂၄၃၈) |
| ၇။ | ရောင်းချမည့်စနစ် | -ပြည်တွင်း၌၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (ပြည်တွင်းရောင်း) | စဉ် ပစ္စည်းအမျိုးအစား အရေအတွက် (MT) ရောင်းချမည့် ဈေးနှုန်း (US$)<br>(က) Broiler Feed ၄၂၅၉၉ ၅၁၈<br>(ခ) Layer Hen Feed ၂၀၀၉၄ ၄၅၇<br>(ဂ) Swine Feed ၁၄၀၆၆ ၅၄၈ |
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ(ဆဋ္ဌမနှစ်မြောက်) | -US$ ၃၈.၉၅ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - US$ ၁.၂၆ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမနှစ်မြောက်) | - US$၃၇.၆၉ သန်း |
| | CSR ၂ % | - US$ ၀.၀၃ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်ဝင်ငွေခွန် | - US$ ၀.၄၂ သန်း |
| | အရင်းကြေကာလ | - ၁ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၃၆ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၂၃၉၂၉၂၈ kWh |
| ၁၂။ | အခြားတင်ပြချက် | - De Heus Animal Nutrition B.V ၏ နယ်သာလန် နိုင်ငံ Chamber of Commerce Commercial Register extract အား တင်ပြ ထား ပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် De Heus Animal Nutrition B.V သည် နယ်သာလန်နိုင်ငံရှိ Rabo Bank ၌ ၁-၆-၂၀၁၅ရက် နေ့တွင် လက်ကျန်ငွေ ယူရို ၅,၂၄၉,၂၆၂.၉၅ ရှိကြောင်း တင်ပြ ထား ပါသည်။<br>- De Heus Animal Nutrition B.V၏ ၂၀၁၂ ခုနှစ် နှင့် ၂၀၁၃ ခုနှစ် Financial report အားတင်ပြထား ပါသည်။<br>- ချေးငွေအတွက် De Heus Animal Nutrition B.V နှင့် De Heus Myanmar Ltd. တို့၏ချေးငွေစာချုပ် အား တင်ပြထားပါသည်။<br>- စက်ပစ္စည်း၊စက်ကိရိယာ နှင့် အဆောက်အဦများ ပြည်ပမှ တင်သွင်းရန်အတွက် ချေးငွေ အမေရိကန်ဒေါ်လာ ၄ သန်း ပါဝင်မည် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ထုတ်ပေးသော စက်မှု လက်မှု လုပ်ငန်းအတွက် မြေအသုံးပြုခွင့်၌ ၂၀၁၂ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် စတင် ခွင့်ပြုခြင်း ဖြစ်ပြီး အဆောက်အဦ ဆောက်လုပ်ခွင့်ပြု သော သက်တမ်း သည် ၂၀၁၅ ခုနှစ်အောက်တိုဘာလ ၃၀ရက်နေ့တွင် ကုန်ဆုံးမည် ဖြစ်ပါသည်။<br>- De Heus Myanmar Ltd. ၏ ဒါရိုက်တာစာရင်း၊ MOA နှင့် AOAတို့ကို လည်း တင်ပြထား ပါသည်။<br>- De Heus Myanmar Ltd. မှ မီးဘေး ကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သန့်ရှင်း သာယာ ရေး စီမံချက်၊ ဝန်ထမ်း သက်သာချောင်ချိရေး စီမံချက်၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုခြင်းတို့ အား တင်ပြ ထားပါသည်။<br>- De Heus Myanmar Ltd. နှင့် မြေပိုင်ရှင် ဦးရဲအောင်တို့၏ ချုပ်ဆိုထားသော မြေငှားစာချုပ် အား တင်ပြထားပါသည်။<br>- ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် စက်ပစ္စည်း အတွက် သာမက အဆောက်အဦအတွက်ပါ တင်ပြ ထားသည်ကို တွေ့ရှိ ရပါသည်။<br>- ကုမ္ပဏီမှတင်ပြသည့်လုပ်ငန်းသက်တမ်းမှာ ၅၀ နှစ်ဖြစ်ပြီး ရန်ကုန်တိုင်းဒေသကြီး၏သဘောထားမှတ်ချက်၌မြောင်းတကာ စက်မှုဇုန်တွင်သံနှင့် သံမဏိလုပ်ငန်းမဟုတ်ပါက(၃+၁+၁) နှစ်သာလုပ်ကိုင်ခွင့်ပြုနိုင်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြား ထားရာ ကုမ္ပဏီမှ(၅)နှစ်ပြည့်၍ ဆက်လက်ပြီး ဤနေရာ၌ လုပ်ကိုင်ခွင့်မရပါ ကအခြားတစ်နေရာသို့ပြောင်းရွှေ့ပြီး နှစ်၅၀ အထိလုပ်ကိုင်မည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါ သည်။ |
| ၁၃။ | စိစစ်တင်ပြချက် | မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ထုတ်ပေးသော စက်မှု လက်မှုလုပ်ငန်း အတွက် မြေအသုံးပြုခွင့်၌ ၂၀၁၂ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် စတင် ခွင့်ပြုခြင်း ဖြစ်ပြီး အဆောက်အဦဆောက်လုပ်ခွင့်ပြုသောသက်တမ်းသည် ၂၀၁၅ ခုနှစ်အောက်တိုဘာလ၃၀ရက်နေ့တွင်ကုန်ဆုံးမည်ဖြစ်ပါ သည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ န - ၁၂၉ / ၂၀၁၅ ( ၈၀၃ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ၂၉ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် De Heus Myanmar Limited မှ တိရစ္ဆာန်အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြု ပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ နယ်သာလန်နိုင်ငံသား Mr. Jacobus Johannes de Heus မှ ၁၀၀% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် De Heus Myanmar Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ရန်ကုန်မြို့၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ သံမဏိစက်မှုဇုန်၊ မြေကွက် အမှတ်-၃၀၆၊ ၃၀၇ ၊ ၃၀၈ ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၅.၅၁ဧကကို ငှားရမ်းကာ တိရိစ္ဆာန်အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာ ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးရဲအောင်နှင့် မြေငှားသူ De Heus Myanmar Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၅.၅၁ ဧက (၂၂၂၉၆.၇၈စတုရန်းမီတာ) ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၁၁၁,၄၈၀.၀၀ နှုန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန် ဒေါ်လာ ၅ ဒေါ်လာ နှုန်း) တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ ၇.၅၇၅ သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား အမေရိကန်ဒေါ်လာ ၀.၅၀ သန်း၊ စက်ပစ္စည်းကိရိယာ အမေရိကန်ဒေါ်လာ ၂.၆၆ သန်း၊ အဆောက်အဦများ အမေရိကန်ဒေါ်လာ ၁.၃၄၀ သန်း၊ အင်ဂျင်နီယာ ငှားရမ်းခ အမေရိကန်

ဒေါ်လာ ၀.၆၀၀ သန်း ၊ စက်ကိရိယာတပ်ဆင်ခ အမေရိကန်ဒေါ်လာ ၀.၈၅၀ သန်း၊ အဆောက်အဦ အတွင်းပိုင်း အခင်းအကျင်းပြင်ဆင်ခ အမေရိကန်ဒေါ်လာ ၀.၄၂၅ သန်း၊ အခြား အမေရိကန် ဒေါ်လာ ၁.၁၀၀ သန်း စသည်တို့ဖြစ်ပါသည်။

၆။ စက်ပစ္စည်းကိရိယာ အမေရိကန်ဒေါ်လာ ၂.၆၆ သန်းနှင့် အဆောက်အဦများ အမေရိကန် ဒေါ်လာ ၁.၃၄၀ သန်းတို့မှာ မိခင် ကုမ္ပဏီ De Heus Animal Nutrition B.V မှ ချေးယူ ရရှိသော ချေးငွေ အမေရိကန်ဒေါ်လာ ၄.၀၀ သန်းကို အသုံးပြုမည်ဖြစ်ပါသည်။ ချေးယူမည့် အတိုးနှုန်းမှာ US$ Libor Rate+ 1.5 % ဖြစ်၍ ပြန်ဆပ်မည့်ကာလမှာ ၅ နှစ်အတွင်း ဖြစ်ပါသည်။ ချေးငွေနှင့် ပတ်သက်၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထား တောင်းခံထား ပါသည်။

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၁၀၃) ဦးနှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်းဦးရေ (၁) ဦး စုစုပေါင်း (၁၀၄) ဦး ခန့်ထားမည်ဖြစ်သည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၁၃၀ အမြင့်ဆုံးလစာ US$ ၂၁၆၇ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ US$ ၂၄၃၈ ဖြစ်သည်။

၈။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ဆဋ္ဌမနှစ် တွင်ထုတ်လုပ်မှုနှင့် ပြည်တွင်းရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$) |
|---|---|---|---|
| (က) | Broiler feed | ၄၂၅၉၉ | ၅၁၈ |
| (ခ) | Layer hen feed | ၂၀၀၉၄ | ၄၅၇ |
| (ဂ) | Swine | ၁၄၀၆၆ | ၅၄၈ |

၉။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ဆဋ္ဌမနှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်း ခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - US$ ၃၈.၉၅ သန်း

(ခ) အသုံး စရိတ် - US$ ၃၇.၆၉ သန်း

(ဂ) အသားတင်အမြတ် - US$ ၁.၂၆ သန်း

၁၀။ နိုင်ငံတော်မှ ဆဋ္ဌမနှစ်တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်၀.၄၂ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁)နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃၆% ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ မြောင်းတကာ စက်မှုဇုန်တွင် သံနှင့် သံမဏိလုပ်ငန်းမဟုတ်ပါက (၃+၁+၁)နှစ် သာ လုပ်ကိုင်ခွင့်ပြုနိုင်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ (ကုမ္ပဏီမှ (၅)နှစ် ပြည့်၍ ဆက်လက်ပြီး ဤနေရာ၌ လုပ်ကိုင်ခွင့်မရပါ က အခြားတစ်နေရာသို့ပြောင်းရွှေ့ပြီး နှစ်၅၀ အထိလုပ်ကိုင်မည် ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါ သည်။)

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး၊ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility-CSR) အား အမြတ်ငွေ၏(၂%)ကိုအသုံးပြုရန်အပါအဝင်ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်း အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည့် တို့ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း ဖော်ပြပါရှိသည့် အတိုင်း လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန် ဖြစ်ကြောင်း၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ် ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူတို့နှင့် ဒေသခံပြည်သူတို့နှင့် လူထုတွေ့ဆုံ ဆွေးနွေးပွဲများ

ပြုလုပ်ပြီးဌင်းတို့၏ဆန္ဒနှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန် ဖြစ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအတွက် တိရိစ္ဆာန်ကျန်းမာရေးနှင့် ဖွံ့ဖြိုးရေးဥပဒေနှင့် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများအား လိုက်နာ ဆောင်ရွက်ပါက အဆိုပြုချက်အား ကန့်ကွက်မရှိပါကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအတွက် ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီး မြှုပ်နှံပြီး တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေးလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာ အသုံးပြု မှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက် ရန် လိုအပ်ပါကြောင်း၊ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-ဃ**

၁၂။ ငွေရေးကြေးရေး အထောက်အထားအဖြစ် De Heus Animal Nutrition B.V သည် နယ်သာလန်နိုင်ငံရှိ Rabo Bank ၌ ၁-၆-၂၀၁၅ရက် နေ့တွင် လက်ကျန်ငွေ အမေရိကန်ဒေါ်လာ ၅,၂၄၉,၂၆၂.၉၅ ရှိကြောင်း တင်ပြထား ပါသည်။ De Heus Myanmar Limited ၏ MOA AOA မူကြမ်း၊ ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာအဖွဲ့ဝင် များ၏ မှတ်ပုံတင်မိတ္တူများအား တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက် လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်း မထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီ အစဉ် များကို တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၅။ **စိစစ်တင်ပြချက်။** မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ထုတ်ပေးသော စက်မှုလက်မှုလုပ်ငန်း အတွက် မြေအသုံးပြုခွင့်၌ ၂၀၁၂ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် စတင် ခွင့်ပြုခြင်းဖြစ်ပြီး အဆောက်အဦ ဆောက်လုပ်ခွင့်ပြုသော သက်တမ်း သည် ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၃၀ရက်နေ့တွင် ကုန်ဆုံးမည် ဖြစ်ပါသည်။

၁၆။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများနှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှုကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြုတင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထား ပါသည်။

၁၇။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၈။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ် စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရ မည့်လုပ်ငန်း စာရင်းတွင်မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ၁၀၀% ခွင့်ပြုနိုင်သောလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

၁၉။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇွန်လ ၂၉ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၂၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၂၀။ De Heus Myanmar Limited မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ရန်ကုန်မြို့၊ မှော်ဘီမြို့နယ်၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မြေကွက်အမှတ်-၃၁၆၊ ၃၁၇ ၊ ၃၁၈ ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၅.၅၁၈ဧကကို ၄၁နှစ်ရမ်းကာ

တိရိစ္ဆာန်အစားအစာထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | De Heus Myanmar Limited. | (၁) Jacobus Johannes de Heus BGKRHLL32 | Hertog Hendrinklaan 13a, 3743 DL Baarn, The Netherlands |
| | | (၂) Marcus Leonardus van der Kwaak BM83224K8 | Petratcalaan 40, 3533 CT Utrechi, The Netherlands |
| | | (၃) Johan Christiaan van den Ban BF8F5JFR5 | Fideco Riverview Building, Apartment 1102, 14 Thao Dien, Ward Thao Dien District 2, Ho Chi Minh City, Vietnam |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၅၁၅၉၁

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်(၃၅/စီ)၊ဦးကျော်လှလမ်း၊မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးပြည့်ဖြိုးကျော်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့်ဖြန့်ဖြူးရောင်းချရေး လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - လျှောက်ထားဆဲ

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -

နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ် ၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာ လ ၇ ရက်

သို့

De Heus Myanmar Ltd.
အမှတ်(၇၂၁)၊ မဟာသုခိတာလမ်း၊ အရှေ့ကြို့ကုန်း(၉)လမ်း၊
အရှေ့ကြို့ကုန်းရပ်ကွက်၊ အင်းစိန်မြို့နယ်

အကြောင်းအရာ။ **မြောင်းတကာစက်မှုဇုန်တွင် ဆောင်ရွက်မည့်လုပ်ငန်းအတွက် ခွင့်ပြုသက်တမ်း တိုးမြှင့်ပေးရေးတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ De Heus Myanmar Ltd. ၏ (၂၁. ၉. ၂၀၁၅)ရက်စွဲပါတင်ပြစာ

၁။ De Heus Myanmar Ltd. သည် မြောင်းတကာစက်မှုဇုန်တွင် တိရစ္ဆာန်အစာဖြန့်ဖြူးခြင်းလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တွင် ရင်းနှီးမြှုပ်နှံခွင့်ပါမစ်လျှောက်ထားလာရာတွင် မြောင်းတကာစက်မှုဇုန် စီမံခန့်ခွဲရေးကော်မတီမှ ကန့်ကွက်ရန်မရှိကြောင်းထောက်ခံစာကို ရရှိပြီးဖြစ်ပါကြောင်း၊ သို့ရာတွင် မြောင်းတကာစက်မှုဇုန်အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလမှာ (၃)နှစ်နှင့် ထပ်တိုး(၁)နှစ်စီ (၂)ကြိမ်ဖြစ်သည့်အတွက် ကုမ္ပဏီ၏ရင်းနှီးမြှုပ်နှံမှုတန်ဖိုးနှင့် စီးပွားဖြစ်ဆောင်ရွက်မည့် ကာလမှာကွာဟလွန်း၍ လုပ်ငန်းဆောင်ရွက်ရာတွင် အခက်အခဲဖြစ်သည့်နည်းတူ နိုင်ငံတကာစံနှုန်းများအရ ဆောင်ရွက်ရန် အခက်အခဲ ဖြစ်ပေါ်နေ၍ ယခင်ကမြောင်းတကာစက်မှုဇုန်အတွင်း ခွင့်ပြုခဲ့သည့် (၂၅)နှစ် ကာလသက်တမ်းအား ခွင့်ပြုနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါတင်ပြလာမှုနှင့်စပ်လျဉ်း၍ မြောင်းတကာစက်မှုဇုန်တွင် သံနှင့်သံမဏိလုပ်ငန်းမဟုတ်ပါက (၃+၁+၁)နှစ်သာ လုပ်ကိုင်ခွင့်ပြုနိုင်မည်ဖြစ်ကြောင်း ပြန်ကြားပါသည်။

7/10/2015

ဝန်ကြီးချုပ် (ကိုယ်စား)
( ကြည်ကြည်ဆွေ၊ ညွှန်ကြားရေးမှူး )

မိတ္တူကို
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်ဓာတ်သတ္တုဝန်ကြီး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/( ၁၆၄၄ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁ - ၇ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၂၉/၂၀၁၅(၅၁၈)

၁။ နယ်သာလန်နိုင်ငံမှ De Heus Animal Nutrition B.V သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် De Heus Myanmar Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ မြောင်းတကာစက်မှုဇုန်၊ မြောင်းတကာ၊ မှော်ဘီမြို့နယ်၊ မြေကွက်အမှတ်-၃၀၆/ ၃၀၇၊ ၃၀၈၊ စုစုပေါင်း ဧရိယာ (၅.၅၁) ဧက၊ (၂.၂၃)ဟတ်တာ ( ၂၂၂၉၆.၇ စတုရန်းမီတာ ) တွင် တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေးလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီးသဘောထား မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာများဖြင့် အကြောင်းကြားလာပါသည်။

၂။ တိရစ္ဆာန်အစားအစာ ထုတ်လုပ်ခြင်းလုပ်ငန်းအားစိစစ်ရာတွင် ပြောင်းဖူး၊ ဆန်ကွဲ၊ ဂျုံစသောကုန်ကြမ်း ပစ္စည်းများအားကြိတ်ခွဲခြင်း၊ သိုလှောင်ခြင်း၊ ရောစပ်ခြင်း၊ အမှုန်အမွှားများ၊ အနံ့အသက်များထွက်ရှိခြင်းကြောင့် ကျန်းမာရေးထိခိုက်စေနိုင်ခြင်း၊ စက်များ လည်ပတ်ခြင်းကြောင့် အသံဆူညံခြင်း၊ ကုန်ချောထုတ်လုပ်မှုအဆင့်ဆင့်မှ ထွက်ရှိလာမည့် စွန့်ပစ်အရည်နှင့် စွန့်ပစ်ပစ္စည်းများကြောင့် စက်ရုံပတ်ဝန်းကျင်ရှိရေ၊ မြေ၊ လေညစ်ညမ်းခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ De Heus Myanmar Ltd. မှ တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့်ဖြန့်ဖြူးရောင်းချရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) အား အမြတ်ငွေ၏ ၂% ကိုအသုံးပြုရန်အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

-၂-

(ခ) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိ စေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination ) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(ဂ) လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက်(Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာတွင် ဖော်ပြပါရှိသည့်အတိုင်း လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူတို့နှင့် လူထုတွေ့ဆုံဆွေးနွေးပွဲများ ပြုလုပ်ပြီး ၎င်းတို့၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

2/8/17

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ-၈

MIC, 10/8/7

MPF-2881
7-7-2015

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၁၃၇၅ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၆ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁-၇-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၂၉/ ၂၀၁၅ (၅၂၀)
(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၄-၇-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ညကခ/ သထ/ MIC /၂၀၁၅ (၅၂၇)

၁။ နယ်သာလန်နိုင်ငံမှ De Heus Myanmar Ltd. သည် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ မြောင်းတကာစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ မြေကွက်အမှတ်-၃၀၆/ ၃၀၇၊ ၃၀၈ စုစုပေါင်း ဧရိယာ (၅.၅၁) ဧက၊ ၂.၂၃ ဟတ်တာ (၂၂၂၉၆.၇ စတုရန်းမီတာ) တွင် တိရစ္ဆာန်အစားအစာ ထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေးလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့်ညှိနှိုင်းလာပါသည်။

၂။ De Heus Myanmar Ltd.သည် တိရစ္ဆာန်အစားအစာ ထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေးလုပ်ငန်းနှင့်စပ်လျဉ်း၍ တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေနှင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများအား လိုက်နာဆောင်ရွက်ပါက အဆိုပြုချက်အား ကန့်ကွက်ရန်မရှိကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်းချက်(၂) ပါစာဖြင့် တင်ပြထားပါသည်။

၃။ သို့ဖြစ်ပါ၍ De Heus Myanmar Ltd.မှ တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေးလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း

အပေါ် မွေးမြူရေး၊ ရေလုပ်ငန်း နှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) De Heus Myanmar Ltd.

(၃) ရုံးလက်ခံ

(၄) မျှော

နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

NPF-3087
16-7-2015

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆(၀၂၁၅)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၇.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၂၉/၂၀၁၅ (၅၁၉)

၁။ De Heus Myanmar Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ မြောင်းတကာစက်မှုဇုန်၊ မြောင်းတကာ၊ မှော်ဘီမြို့နယ်၊ မြေကွက်အမှတ်(၃၀၆၊ ၃၀၇၊ ၃၀၈)တွင် တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေး လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေးလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ De Heus Myanmar Ltd. မှ တိရစ္ဆာန်အစားအစာထုတ်လုပ်ရေးနှင့် ဖြန့်ဖြူးရောင်းချရေးလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံး

လုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန